(င) ဝန်ထမ်းများ တာဝန်ခွဲဝေချထားခြင်းဆိုင်ရာကိစ္စရပ်များအား ''အငှားချထားခြင်းခံရသူ''၏ စီမံမှုဖြင့် ဆောင်ရွက်ရမည်။

(စ) ဝန်ထမ်းများရာထူးတိုးခြင်း၊ အရေးယူအပြစ်ပေးခြင်းနှင့် ဝန်ထမ်းရေးရာကိစ္စရပ်များအား ''အငှားချထားခြင်းခံရသူ''၏ တင်ပြချက်ကို နိုင်ငံတော်မှသတ်မှတ်ထားသည့်ဝန်ထမ်းစည်းမျဉ်းများနှင့်အညီအငှားချထားသူမှစိစစ်ဆောင်ရွက်ပေးရမည်။

(ဆ) ဝန်ထမ်းရေးရာကိစ္စရပ်များနှင့် ပတ်သက်၍ ဝန်ထမ်းများ နစ်နာမှုမရှိစေရေးအတွက် နှစ်ဦးနှစ်ဖက်မှ ညှိနှိုင်းဆောင်ရွက်ရမည်။

(ဇ) စက်ရုံလွှဲပြောင်းသည့်အခါ ပါရှိသော ဝန်ထမ်းများအနက် ရာထူးမှနုတ်ထွက်လိုခြင်း၊ နှစ်ပြည့်(သို့မဟုတ်) သက်ပြည့်အငြိမ်းစားယူခြင်းများရှိပါက''အငှားချထားခြင်းခံရသူ'' ထံ တင်ပြရမည်။

(ဈ) ဝန်ထမ်းများအား တိုးချဲ့ဆောင်ရွက်မည့် လုပ်ငန်းများတွင် ''အငှားချထားခြင်းခံရသူ'' မှ ''အငှားချထားသူ'' နှင့် ညှိနှိုင်း၍ တာဝန်ပေးအပ်နိုင်သည်။

(ည) ဝန်ထမ်းများ၏ လူမှုဖူလုံရေး အကျိုးခံစားခွင့်ရရှိရေးအတွက် ''အငှားချထားခြင်းခံရသူ'' မှ တာဝန်ယူရမည်။

(ဋ) ဝန်ထမ်းများ၏ သက်သာချောင်ချိရေးကိစ္စများကို ''အငှားချထားခြင်းခံရသူ''မှ စီစဉ်ဆောင်ရွက်ပေးရန် တာဝန်ယူရမည်။

(ဌ) ဝန်ထမ်းများအလုပ်ခွင်တွင် မတော်မဆထိခိုက်မှုဖြစ်ပွားပါက ''အငှားချထားခြင်းခံရသူ'' မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(ဍ) ဝန်ထမ်းများ ရာထူးအနွယ် (Lien) ဆက်လက်ထိန်းသိမ်းထားပြီး ရာထူးတိုးမြှင့်ရန် အချိန်ကျရောက်သည့်အခါ ရာထူးတိုးမြှင့်ခြင်းကိစ္စကို ''အငှားချထားသူ''မှ ဆောင်ရွက်ရမည်။

(ပ) ဝန်ထမ်းရေးရာကိစ္စများနှင့်ပတ်သက်၍ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း၊ ဦးဆောင်ညွှန်ကြားရေးမှူး ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်သည့် နောက်ဆက်တွဲတွင် ပါရှိသော စီမံခန့်ခွဲရေးအဖွဲ့မှ ''အငှားချထားခြင်းခံရသူ'' ၏ တင်ပြခြင်းများကို နှစ်ဦးနှစ်ဖက် ညှိနှိုင်း တာဝန်ယူဆောင်ရွက်ရမည်။

(ဏ) လုပ်ငန်းတွင် ထိခိုက်နစ်နာမှုမရှိစေရန်အတွက် ဝန်ထမ်းများအား ဤစက်ရုံ၏ ပြင်ပ လုပ်ငန်းနေရာများသို့ ပြောင်းရွှေ့ခြင်းကို ''အငှားချထားခြင်းခံရသူ'' ၏ သဘောတူညီမှုဖြင့် ဆောင်ရွက်ရမည်။

ငှားရမ်းခနှုန်းထား

၉။ ငှားရမ်းခနှုန်းထားမှာ အပိုဒ်(၃)ပါ စက်ရုံမြေ၊ အဆောက်အဦ၊ စက်နှင့်စက်ပစ္စည်းများ အပါအဝင် တစ်နှစ်လျှင် ကျပ်(၂၄.၀၀)သန်း၊ (ကျပ်နှစ်ဆယ့်လေးသန်းတိတိ) ဖြစ်ပါသည်။

၁၀။ နှစ်ဖက်သဘောတူညီချက်ဖြင့် ငှားရမ်းခပြင်ဆင်သတ်မှတ်ခြင်းကို နှစ်စဉ်ပြုလုပ်သွားမည်။ ပြင်ဆင်ခြင်းအား စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ အတည်ပြုချက်ဖြင့် ပြင်ဆင်သတ်မှတ်နိုင်သည်။ သို့ရာတွင် ငှားရမ်းခတိုးခြင်း/လျှော့ခြင်းနှင့် စပ်လျဉ်း၍ ယခင်နောက်ဆုံးငှားရမ်းခ၏ (၁၀%)ထက်ပိုပြီး တိုးမြှင့်ခြင်း၊ လျှော့ခြင်းမပြုရ။

ငှားရမ်းခပေးချေခြင်း

၁၁။ ''အငှားချထားခြင်းခံရသူ''သည် (၃)လအတွက် ငှားရမ်းခငွေ ကျပ်(၆.၀၀)သန်း (ကျပ်ခြောက်သန်းတိတိ)ကို (၃)လ(၁)ကြိမ်၊ (၃)လပြည့်သည့်လ၏ နောက်ဆုံးပတ်အတွင်း ပေးသွင်းရမည်။ ပေးသွင်းရန်ပျက်ကွက်ပါက ဒဏ်ကြေးပေးဆောင်ရမည်။ သတ်မှတ်ကာလ နောက်ကျ ပေးသွင်းမှုအပေါ်(၁)လ တစ်ပတ်လျှင် ပေးသွင်းရမည့်ငွေ၏ (၁%)ဒဏ်ကြေးပေးဆောင်ရမည်။

၁၂။ ''အငှားချထားသူ'' နှင့် ''အငှားချထားခြင်းခံရသူ'' သည် လိုအပ်ပါက (၃)လလျှင်(၁)ကြိမ် လုပ်ငန်းဆောင်ရွက်မှု အခြေအနေများအား ပြန်လည်သုံးသပ်၍ ငှားရမ်းခပေးချေမည့် အစီအစဉ်အား စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ၏ ဆုံးဖြတ်မှုနှင့် ပြန်လည်ပြင်ဆင်ဆောင်ရွက်နိုင်သည်။

အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ

၁၃။ ''အငှားချထားခြင်းခံရသူ'' ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ငှားရမ်းသည့်မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ မော်တော်ယာဉ်များ၊ ရုံးသုံးပရိဘောဂများနှင့် အခြားပစ္စည်းများကို နောက်ဆက်တွဲ(က မှ ဂ အထိ) ပါအတိုင်း ငှားရမ်းဆောင်ရွက်ရမည်။

(ခ) ငှားရမ်းခွင့်ရရှိထားသော သံထည်၊ သစ်သားထည်လုပ်ငန်းစက်ရုံခွဲ(ကျိုက်ဝိုင်း) မြေနှင့်အဆောက်အဦတွင် ကနဦးတင်ပြထားသော လုပ်ငန်းများအပြင် ဥပဒေနှင့်မငြိစွန်းသည့် အခြားလုပ်ငန်းများကို တိုးချဲ့လုပ်ကိုင်လိုပါက အငှားချထားသူသို့ ညှိနှိုင်းဆောင်ရွက်ခွင့်ရှိသည်။

(ဂ) ငှားရမ်းခွင့်ရယူထားသောစက်ရုံနှင့် ပစ္စည်းများအား တဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း (သို့မဟုတ်) တနည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်းတို့ကို မပြုလုပ်ရ။

(ဃ) သံထည်၊ သစ်သားထည်လုပ်ငန်းစက်ရုံခွဲ (ကျိုက်ဝိုင်း) တို့၏ အဆောက်အဦနှင့် စက်ပစ္စည်းကိရိယာများကို လိုအပ်သည့်မွမ်းမံပြင်ဆင်မှုများ ဆောင်ရွက်ရမည်။

(င) တိုးချဲ့လုပ်ကိုင်မည့် ကုန်ထုတ်လုပ်ငန်းများနှင့် ဝန်ဆောင်မှုလုပ်ငန်းများအတွက် လိုအပ်သည့် စက်ပစ္စည်းအသစ်များ တပ်ဆင်ခြင်းတို့ကို ''အငှားချထားသူ''နှင့် ညှိနှိုင်းဆောင်ရွက်ပြီး အဆောက်အဦအသစ် ဆောက်လုပ်ရန်ရှိပါက ''အငှားချထားသူ''နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

(စ) စက်ရုံအား စတင်ငှားရမ်းမည့်အချိန်မှစ၍ စက်ရုံနှင့်ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းဇယားများအားလုံးအား အစစ်ဆေးခံနိုင်ရေးနှင့် အခြားလိုအပ်သည်များ ဆောင်ရွက်နိုင်ရန် စနစ်တကျထိန်းသိမ်းဆောင်ရွက်ရမည်။

(ဆ) အငှားချထားသည့်ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိ၊ ဝီရိယဖြင့် ကောင်းမွန်စွာထိန်းသိမ်းထားပြီး လိုအပ်သော ပြင်ဆင်မွမ်းမံမှုအားလုံးကို ပြုလုပ်ရမည်။ သို့ရာတွင် အငှားချထားသည့်ပစ္စည်းများ၏ ပျက်စီးဆုံးရှုံးခြင်း ဖြစ်ပေါ်ရခြင်းမှာ ''အငှားချထားခြင်းခံရသူ''၏ မှားယွင်းသောလုပ်ဆောင်ချက်၊ သင့်လျော်သလို ဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်) ပေါ့လျော့ခြင်းကြောင့် ဖြစ်ပွားပါက ''အငှားချထားခြင်းခံရသူ''သည် ဤအပိုဒ်ပါအခွင့်အရေးကို ရယူခံစားနိုင်ခွင့်မရှိသည့်အပြင် ယင်းပစ္စည်းများအား နကိုမူလအခြေအနေသို့ ရောက်ရှိအောင် ပြန်လည်ပြင်ဆင်မွမ်းမံရသည့် ကုန်ကျစရိတ်အားလုံးကို ပေးချေရမည်။

(ဇ) အငှားချထားသည့်စက်ရုံ၏ အခြေအနေကို စစ်ဆေးရန်လိုအပ်ပါက ''အငှားချထားသူ'' က နည်းလမ်းတကျလုပ်ကိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များကို ဝင်ရောက်စစ်ဆေးခွင့်ပြုရမည်။

(ဈ) အငှားချထားသည့်စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား သတ်မှတ်ရက်အတွင်း အချိန်မှီပေးဆောင်ရမည်ဖြစ်ပြီး၊ ပေးဆောင်ထားသည့် ပြေစာအထောက်အထားမိတ္တူများအား ''အငှားချထားသူ''ထံ လစဉ်ပေးပို့ရမည်။

ကန့်သတ်

၇

(ည) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် လျှပ်စစ်နှင့် သဘာဝ ဓာတ်ငွေ့အတွက် ကျသင့်ငွေများအား သက်ဆိုင်ရာဝန်ကြီးဌာန၏ သတ်မှတ်နှုန်းထား အတိုင်း ပေးချေရမည်။

(ဋ) အငှားချထားသည့်စက်ရုံအတွက် အလုံးအစုံအာမခံကို မြန်မာ့အာမခံလုပ်ငန်းဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ထားရှိရမည်ဖြစ်ပြီး အာမခံသက်တမ်းကျော်လွန်မှုမရှိစေရေး တာဝန်ယူဆောင်ရွက်ရမည်။

(ဌ) လျှပ်စစ်ဓာတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေစည်းမျဉ်းများနှင့်အညီသုံးစွဲပြီး မီးဘေး ကာကွယ်ရေးအစီအမံများ လုံလောက်စွာထားရှိရမည်။ စက်ရုံ၏ သန့်ရှင်းရေး၊ အထွေထွေလုံခြုံရေးတို့ကိုလည်း တာဝန်ယူဆောင်ရွက်ရမည်။

(ဍ) ''အငှားချထားသူ''၏ ခွင့်ပြုချက်ဖြင့် လျှပ်စစ်သွယ်တန်းခြင်း၊ အဝီစိတွင်းတူးခြင်း၊ ရေပိုက်သွယ်တန်းခြင်း၊ တယ်လီဖုန်းဆက်သွယ်တပ်ဆင်ခြင်းကို မိမိစရိတ်ဖြင့် ဆောင် ရွက်နိုင်သည်။ စာချုပ်သက်တမ်းကုန်ဆုံးပါက (သို့မဟုတ်) အငှားစာချုပ်ရုပ်စဲခြင်း ဖြစ်ပါက အဆိုပါပစ္စည်းများကို ပြန်လည်ဖြုတ်ယူခြင်း၊ ဖြုတ်တောက်ခြင်းများကို ''အငှားချထားသူ''၏ ခွင့်ပြုချက်ရရှိမှသာ ပြန်လည်ဖြုတ်ယူခွင့်ရှိသည်။

(ဎ) အငှားချထားသည့် စက်ရုံတွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုများ၊ စက်ပစ္စည်းအသစ် ဖြည့်စွက်တပ်ဆင်မှုများနှင့် တိုးချဲ့ဆောက်လုပ်မှုများအား စက္ကူနှင့်အိမ်သုံးပစ္စည်း လုပ်ငန်း(ရုံးချုပ်)သို့ တင်ပြပြီး နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်သွားရပါမည်။ စက်ရုံ ပြန်လည်လွှဲပြောင်းပေးချိန်တွင် တပ်ဆင်ထားသောပစ္စည်းများနှင့် တိုးချဲ့အဆောက် အဦများ၏ ထိုက်သင့်သည့် တန်ဖိုးရရှိရေး နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။

(ဏ) အငှားချထားသည့် ပစ္စည်းများနှင့်စပ်လျဉ်း၍ မြေခွန်မှအပစည်ပင်သာယာခွန်၊ အခြားအခွန်အခများ၊ ကုန်ထုတ်လုပ်မှုနှင့် သက်ဆိုင်သည့်အခွန်အခအမျိုးမျိုးတို့ကို ကျခံပေးဆောင်ရမည်။

(တ) စက်ရုံကို လက်ခံသည့်နေ့တွင် စက်အရံပစ္စည်းများကို ''အငှားချထားခြင်းခံရသူ'' မှ အသုံးပြုမည်ဆိုပါက နှစ်ဖက်ညှိနှိုင်းတန်ဖိုးသင့်၍ သတ်မှတ်ကာလအတွင်း ''အငှားချထားသူ'' သို့ ပေးချေရမည်။

ကန့်သတ်

(ဏ) ထုတ်လုပ်ထားသော ကုန်ချောပစ္စည်းများကို ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်းဖြင့် လွတ်လပ်စွာရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူခွင့်ရှိသည်။

(ဒ) ''အငှားချထားခြင်းခံရသူ''၏ ကိုယ်ပိုင်ကုန်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်ပိုင်ခွင့်ရှိသည်။ သို့ရာတွင် အဆိုပါကုန်တံဆိပ်နှင့်စပ်လျဉ်း၍ မူပိုင်အခွင့်အရေးများကို ချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် ''အငှားချထားခြင်းခံရသူ''၏ တာဝန်သာဖြစ်သည်။

(ဓ) အငှားချထားသည့်စက်ရုံတွင် ခွင့်ပြုထားသည့် လုပ်ငန်းမှအပ ဥပဒေနှင့်မညီညွတ်သောလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်းမပြု။

(န) ''အငှားချထားခြင်းခံရသူ''မှ ဆောင်ရွက်မည့်လုပ်ငန်းအတွက် သက်ဆိုင်ရာဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများထားရှိပြီး ''အငှားချထားသူ''ထံ မိတ္တူတစ်စုံအပ်နှံထားရမည်။

(ပ) အငှားချထားသည့်စက်ရုံ၏ အုပ်ချုပ်မှုနှင့်ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် ဒီဇယ်ဆီ၊ ဓာတ်ဆီတို့အား ''အငှားချထားခြင်းခံရသူ''၏ အစီအမံဖြင့်စီစဉ်ဆောင်ရွက်ရမည်။

(ဖ) စက်ရုံရှိ မော်တော်ယာဉ်များနှင့်ပတ်သက်၍ စက်သုံးဆီနှင့် ပြုပြင်ထိန်းသိမ်းမှုများကို ''အငှားချထားခြင်းခံရသူ''မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၁၄။ ''အငှားချထားခြင်းခံရသူ'' သည် ဤစာချုပ်ပါ ငှားရမ်းခြင်းကာလ ကုန်ဆုံးသည့်အခါဖြစ်စေ၊ ငှားရမ်းခြင်းရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ကုန်ဆုံးသည့်နေ့(သို့မဟုတ်)ရပ်စဲသည့်နေ့မှ (၁၀)ရက်အတွင်း အငှားချထားသည့် စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ကိရိယာများကို အငှားချထားသူသို့ အဖိုးစားနားမပါရှိဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

ကန့်သတ်

၉

အငှားချထားသူ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ

၁၅။ ''အငှားချထားသူ'' ၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ''အငှားချထားခြင်းခံရသူ'' သို့ အငှားချထားသည့် သံထည်၊ သစ်သားထည်လုပ်ငန်းစက်ရုံခွဲ(ကျိုက်ဝိုင်း)တို့ကို လွှဲပြောင်းပေးပြီး ကုန်ပစ္စည်းများ ထုတ်လုပ်ခွင့်ပေးရမည်။

(ခ) စက်ရုံနှင့်ပတ်သက်သည့်ဌာနအလိုက် သတ်မှတ်ထားသည့် လုပ်ငန်းမှုနည်းစနစ်များ၊ စာရွက်စာတမ်းများ၊ စာရင်းဇယားများအား လိုအပ်သည်များ ဆောင်ရွက်ရန် ''အငှားချထားခြင်းခံရသူ'' အား စနစ်တကျလွှဲပြောင်းပေးအပ်ရမည်။

(ဂ) စက်ရုံတွင် တပ်ဆင်ထားပြီးသောသဘာဝဓာတ်ငွေ့၊ လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းတို့ကို ''အငှားချထားခြင်းခံရသူ'' အား ဆက်လက်အသုံးချခွင့်ပြုရမည်။

(ဃ) အငှားချထားသည့် စက်ရုံအခြေအနေများကို နည်းလမ်းတကျလုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များစေလွှတ်၍ စစ်ဆေးနိုင်ခွင့်ရှိသည်။

(င) အငှားချထားသည့် စက်ရုံအတွက် ကျသင့်သည့်မြေခွန်ကို ပေးဆောင်ရမည်။

(စ) စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာအသုံးပြုခြင်းနှင့် အခွန်အခများအား ''အငှားချထားခြင်းခံရသူ'' မှ လစဉ်အချိန်မီပေးဆောင်မှုရှိ/မရှိ စိစစ်ရမည်။

(ဆ) အငှားချထားသည့် စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် မီးထိုးဆီနှင့် သဘာဝဓာတ်ငွေ့များ ရရှိရေးအတွက် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(ဇ) အငှားချထားသည့် စက်ရုံနှင့်သက်ဆိုင်သော အာမခံများ၏ အာမခံသက်တမ်းကျော်လွန်မှုမရှိစေရေး ကြပ်မတ်ဆောင်ရွက်ရမည်။

ကုန်အမှတ်တံဆိပ်အသုံးပြုခြင်း

၁၆။ ''အငှားချထားခြင်းခံရသူ''၏ ကိုယ်ပိုင်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ်ခွင့်ရှိသည်။ သို့ရာတွင် အဆိုပါကုန်တံဆိပ်နှင့် စပ်လျဉ်း၍ မူပိုင်ခွင့်အရေးများကို ချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် ''အငှားချထားခြင်းခံရသူ''၏ တာဝန်သာဖြစ်သည်။

ကန့်သတ်

၁၇။ "အငှားချထားခြင်းခံရသူ"မှ တီထွင်ဆောင်ရွက်ထားသော ကိုယ်ပိုင်တံဆိပ်အား "အငှားချထားခြင်းခံရသူ" ၏ မူပိုင်ခွင့်အဖြစ် သတ်မှတ်၍ အခြားသူများသုံးစွဲလိုပါက ခွင့်ပြုချက်ရမှ သုံးစွဲရမည်။

ဓာတ်သတ္တုအရင်းအမြစ်များ

၁၈။ စာချုပ်ပါ သက်တမ်းတွင် ယခုလုပ်ငန်းဆောင်ရွက်သည့် မြေ၏မြေပေါ်၊ မြေအောက်မှ မမျှော်လင့်ဘဲ ဓာတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓာတုဆိုင်ရာပစ္စည်းများ၊ သဘာဝသယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများ အစရှိသည်တို့ကို တွေ့ရှိပါက "အငှားချထားသူ" ထံ ချက်ချင်းအကြောင်းကြားရမည်။ အဆိုပါပစ္စည်းများသည် "အငှားချထားခြင်းခံရသူ"နှင့် သက်ဆိုင်ခြင်းမပြုစေရ။ အငှားချထားသူသည် အဆိုပါပစ္စည်းများကို "အငှားချထားခြင်းခံရသူ"၏ လုပ်ငန်းများ နစ်နာဆုံးရှုံးမှုမရှိစေဘဲ လွတ်လပ်စွာ တူးဖော်ရယူခွင့်ရှိစေမည့်အပြင် နိုင်ငံတော်အစိုးရသို့ လွှဲပြောင်းတင်ပြခွင့်ရှိစေရမည်။

ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၁၉။ "အငှားချထားခြင်းခံရသူ" အနေဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများအား ကောင်းစွာကာကွယ်ထိန်းသိမ်းစောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု၊ ရေထုနှင့် မြေထုများညစ်ညမ်းခြင်းနှင့် အခြားသောပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရမည်။ ရေများသန့်စင်နိုင်သော စက်များတပ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့် အစိတ်အပိုင်းများကို လုံခြုံစွာထားရှိပေးခြင်းဖြင့် အခြားသော ပတ်ဝန်းကျင်ဘေးအန္တရာယ် ကင်းရှင်းရေးဆိုင်ရာ လိုအပ်သော အကာအကွယ်အစီအစဥ်များ ဆောင်ရွက်ရမည်။

စာချုပ်သက်တမ်းတိုးခြင်း

၂၀။ "အငှားချထားခြင်းခံရသူ"သည် စက်ရုံငှားရမ်းရေး စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် စက်ရုံကို ဆက်လက်ငှားရမ်းလို/မလိုကိစ္စကို စာချုပ်သက်တမ်းမကုန်ဆုံးမီ (၃)လအလိုတွင် အကြောင်းကြားပြီး ဆက်လက်ငှားရမ်းလိုပါက စာချုပ်သက်တမ်းတိုးမြှင့်လိုသည့်ကာလ၊ တိုးမြှင့်လိုသည့် အကြိမ်များအား နှစ်ဦးနှစ်ဖက်ညှိနှိုင်းသတ်မှတ်ရမည်။ ထိုသို့သက်တမ်းတိုးမြှင့်ခြင်းသည် ပြည်ထောင်စုအစိုးရအဖွဲ့နှင့် စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ၏ အတည်ပြုချက်ရရှိမှသာ အတည်ပြုဖြစ်စေရမည်။

၁၁

ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၂၁။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ(သို့မဟုတ်) စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် "အငှားချထားသူ" က ယင်းကဲ့သို့ ပျက်ကွက်မှုများကိုပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် "အငှားချထားခြင်းခံရသူ"သို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါကာလအတွင်း လိုက်နာမှုမရှိပါက "အငှားချထားသူ" သည် အငှားချထားသည့် မြေနေရာကို ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းတို့ဝင်ရောက်၍ လာရောက်ရယူခြင်းသည် "အငှားချထားသူ"က "အငှားချထားခြင်းခံရသူ"ထံမှ ရရန်ရှိသော ငှားရမ်းခ(သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

အငြင်းပွားမှုဖြေရှင်းခြင်း

၂၂။ ဤစာချုပ်နှင့်စပ်လျဥ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို ငြိမ်းချမ်းသော နည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက် ဖြေရှင်းကြရမည်။ ထိုကဲ့သို့ ဖြေရှင်းမရနိုင်ပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။

မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ

၂၃။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်းစသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ် များဖြစ်ပြီး ယင်းဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ"သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။ အကယ်၍ အဆိုပါပစ္စည်းများအားလုံးဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ၊ မီးလောင်ခြင်း၊ မြေငလျင်လှုပ်ခြင်း၊ လေမုန်တိုင်းကျရောက်ခြင်း၊ ရေကြီးခြင်း၊ ရုန်းရင်း ဆန်ခတ်မှုဖြစ်ပေါ်ခြင်း (သို့မဟုတ်) အခြားမလွှဲရှောင်နိုင်သည့် အကြောင်းတရားများ ကြောင့် ပျက်စီးသွား၍ ဆက်လက်အသုံးပြုရန် မသင့်လျော်ပါက "အငှားချထားသူ" အား ဤစာချုပ်ကို ရပ်စဲပေးရန် (သို့မဟုတ်) အသုံးပြုရန်သင့်လျော်သည့် ကျန်ရှိနေ သည့် အစိတ်အပိုင်းအတွက် ငှားရမ်းခကို အချိုးကျလျှော့ပေါ့ပေးရန် အမြန်ဆုံး အကြောင်းကြားရမည်။

၂၄။ ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်များပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ (၁၅)ရက်အတွင်း ''အငှားချထားခြင်းခံရသူ'' သည် အငှားချထားသူသို့ ချက်ချင်းစာဖြင့်ရေးသားအကြောင်းကြားရမည်။''အငှားချထားသူ'' က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများ ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

အကျိုးသက်ရောက်သည့်နေ့

၂၅။ ဤစာချုပ်သည် ''အငှားချထားသူ''နှင့် ''အငှားချထားခြင်းခံရသူ''တို့ စာချုပ်လက်မှတ်ရေးထိုးပြီး(၂၀၁၃)ခုနှစ် ဇူလိုင်လ(၁)ရက်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။ ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီ နှင့် ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးတို့ကို ဆက်လက်တင်ပြ၍ သဘောတူညီချက်ရယူရမည်။

ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၂၆။ ဤစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်အတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းရှိ သက်ဆိုင်ရာအစိုးရဌာန၊ အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်များ ခွင့်ပြုမိန့်များရရှိပြီးမှသာ လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ပါသည်။

**စာချုပ်ပြင်ဆင်ခြင်း**

၂၇။ ဤစာချုပ်ပါ စည်းကမ်းချက်များကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်းပြုလုပ်လိုပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက်မှ တရားဝင်စာဖြင့် သဘောတူညီချက်ရရှိမှသာ ပြုလုပ်ရမည်။

၂၈။ ''အငှားချထားခြင်းခံရသူ''မှ စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရ တွက်ချေကိုက်မှုမရှိခြင်း၊ အခြားသောအဆင်မပြေမှုများရှိခြင်းကြောင့် စာချုပ်ပြင်ဆင်လိုပါက ''အငှားချထားသူ''ထံစာဖြင့်အကြောင်းကြားရမည်။ နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆွေးနွေးမှုကို (၁)လထက်မပိုသော ကာလအတွင်း ပြီးပြတ်အောင်ဆောင်ရွက်ရမည်။

စာချုပ်ပြန်လည်ညှိနှိုင်းခြင်း

၂၉။ စာချုပ်စည်းကမ်းချက်များနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လုပ်ငန်းလိုအပ်ချက်အရ (သို့မဟုတ်) ဤစာချုပ်တွင် မပါရှိသည့်ကိစ္စရပ်များ ပေါ်ပေါက်လာလျှင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်ညှိနှိုင်းခွင့်ရှိစေရမည်။

စာချုပ်ရပ်စဲခြင်း

၃၀။(က) စာချုပ်ရပ်စဲခြင်းနှင့်စပ်လျဉ်း၍ ဤစာချုပ်ကို အောက်ပါအကြောင်းရပ်တစ်ခုခု ပေါ်ပေါက်ပါက စာချုပ်ရပ်စဲခွင့်ရှိသည်-

(၁) မလွန်ဆန်နိုင်သောဖြစ်ရပ်များဖြစ်စေ၊ အငှားချထားခြင်းခံရသည့်စက်ရုံရှိ ပစ္စည်းများပျက်စီးဆုံးရှုံးသွား၍ လုပ်ငန်းဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း၊

(၂) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

(၃) စာချုပ်ရပ်စဲရန် နှစ်ဦးနှစ်ဖက် ညှိနှိုင်းဖြေရှင်း သဘောတူဆုံးဖြတ်ခြင်း၊

(၄) ''အငှားချထားခြင်းခံရသူ'' က လူမွဲအဖြစ်ခံယူသွားခြင်း၊

(၅) စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကို အငှားချထားခြင်းခံရသူက ဖောက်ဖျက်ကျူးလွန်ခြင်း

ပျက်ကွက်ခြင်း

၃၁။ ''အငှားချထားခြင်းခံရသူ''သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် ''အငှားချထားသူ''ကင်းကွဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်) လိုက်နာရန် ''အငှားချထားခြင်းခံရသူ''သို့ အကြောင်းကြားစာပေးပို့ပြီးနောက် (၁၅)ရက်အတွင်း လိုက်နာမှုမရှိပါက အထက်အပိုဒ်(၂၂)ပါ အငြင်းပွားမှု ဖြေရှင်းသည့် နည်းလမ်းအတိုင်း ဆောင်ရွက်ရမည်။

၃၂။ ဤစာချုပ်တွင်ပါရှိသော နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

တီ၊အက်(ဖ်)အမှတ် (၅)

တံဆိပ်ခေါင်းခွန် ငွေသွင်းချလန်

ငွေစာရင်းခေါင်းစဉ် ၂၈၆၁ တံဆိပ်ခေါင်းရုံးအမှတ်

MD 010268

အမှတ် (၂၃)၊ ကျိုက်ဝိုင်းဘုရားလမ်း၊
ရန်ကုန်မြို့

သို့

မန်နေဂျာ ဘဏ်နှင့်မြို့။

ငွေတိုက်ခွဲအရာရှိ မြို့၊

ကျောဘက်ပါစာရင်းအတိုင်းတံဆိပ်ခေါင်းအခွန်ငွေအတွက်

မားသားထရိန်းတင်း(လ်)ကုမ္ပဏီလီမိတက်(-)

ကပေးသွင်းရန်ရှိသည့် ငွေပေါင်း(စာဖြင့်)

ကျပ် - နှစ်သိန်းခုနစ်သောင်း

ဂဏန်းဖြင့် ၂၇၀၀၀၀/-

ကို လက်ခံပါမည့်အကြောင်း။

မြို့၊

နေ့စွဲ။ 27-Jun-14 ပေးသွင်းသူ၏တံဆိပ်ခေါင်းထုတ်ပေးသည့်

လက်မှတ် ပြည်သူ့ဝန်ထမ်း၏လက်မှတ်

27/6/14

270000/

ပေးသွင်းငွေကို လက်ခံရရှိပါသည်။

မြို့၊ မန်နေဂျာ ဘဏ်နှင့်မြို့။

နေ့စွဲ။ ငွေတိုက်ခွဲအရာရှိ မြို့။

[ ကျောဘက်သို့ကြည့်ပါ ]

၃၃။ အထက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် တစ်ဖက်ပါ အသိသက်သေအစုံအလင်ရှေ့မှောက်တွင် ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာ လ( ၁၅ ) ရက်၌ "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့ လက်မှတ်ရေးထိုးကြပါသည်-

အငှားချထားသူ (ကိုယ်စား)

ဦးရည်မွန်
ဦးဆောင်ညွှန်ကြားရေးမှူး
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

အငှားချထားခြင်းခံရသူ (ကိုယ်စား)

ဦးအောင်မြတ်
၁၂/ဥကတ(နိုင်) ၀၂၃၀၃၉
အုပ်ချုပ်မှုဒါရိုက်တာ
Mother Trading Co., Ltd.

**အသိသက်သေများ**

၁။ ဒေါက်တာစိုးနိုင်
ညွှန်ကြားရေးမှူး(စီမံရေး)
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

၂။ ဦးသန်းထွန်း
ညွှန်ကြားရေးမှူး(ထုတ်လုပ်ရေး)
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

၃။ ဒေါ်ခင်မြင့်သီ
ညွှန်ကြားရေးမှူး(ဘဏ္ဍာရေး)
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

၄။ ဒေါ်ယဉ်ယဉ်မော်
လက်ထောက်အထွေထွေမန်နေဂျာ
စက်ဘီးစက်ရုံ(ကျောက်ဆည်)
ကုန်ထုတ်ဌာနခွဲ(၁)၊ ရန်ကုန်

၁။ ဦးမောင်မောင်ဝင်း
၁၂/ကမရ(နိုင်) ၀၂၈၇၁၉
အမှတ်-၉၇(I)၊ သံလွင်လမ်း၊
ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

၂။ ဦးအုပ်စိုးပိုင်
၆/မဟရ(နိုင်) ၀၈၆၃၉၇
အမှတ်(၄၀၃)၊ တိုက်(၁)၊
ဇီဇဝါအိမ်ရာ၊ သံသုမာလမ်း
(၁၅)ရပ်ကွက်၊ တောင်ဥက္ကလာပ
မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

ရုံးအမိန့်စာအမှတ်(ထွေ/၂၁၉-က/၂၀၁၃)
ရက်စွဲ၊ ၂၀၁၃ခုနှစ်၊ ဩဂုတ်လ ၁၅ ရက်

စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း(ရုံးချုပ်)မှ အောက်ဖော်ပြပါ ပုဂ္ဂိုလ်များပါဝင်သော စီမံခန့်ခွဲရေးအဖွဲ့ကို ၁၅.၈.၂၀၁၃ ရက်နေ့မှစ၍ ဖွဲ့စည်းလိုက်သည် -

| စဉ် | အမည် | ရာထူး/လစာနှုန်း/ဌာန | တာဝန် |
|---|---|---|---|
| (၁) | ဦးရည်မွန် | ဦးဆောင်ညွှန်ကြားရေးမှူး<br>၂၃၀၀၀၀-၂၀၀၀-၂၄၀၀၀၀<br>လုပ်ငန်း(ရုံးချုပ်) | ဥက္ကဋ္ဌ |
| (၂) | ဒေါက်တာစိုးနိုင် | ညွှန်ကြားရေးမှူး(ပစ္စည်းစီမံရေး)<br>၂၁၀၀၀၀-၂၀၀၀-၂၂၀၀၀၀<br>လုပ်ငန်း(ရုံးချုပ်) | အဖွဲ့ဝင် |
| (၃) | ဦးသန်းထွန်း | ညွှန်ကြားရေးမှူး(ထုတ်လုပ်မှုစီမံရေး)<br>၂၁၀၀၀၀-၂၀၀၀-၂၂၀၀၀၀<br>လုပ်ငန်း(ရုံးချုပ်) | အဖွဲ့ဝင် |
| (၄) | ဒေါ်ခင်မြင့်သီ | ညွှန်ကြားရေးမှူး(ဘဏ္ဍာရေး)<br>၂၁၀၀၀၀-၂၀၀၀-၂၂၀၀၀၀<br>လုပ်ငန်း(ရုံးချုပ်) | အဖွဲ့ဝင် |
| (၅) | ဦးဟန်တင် | ညွှန်ကြားရေးမှူး(ရောင်းချဖြန့်ဖြူးရေး)<br>၂၁၀၀၀၀-၂၀၀၀-၂၂၀၀၀၀<br>လုပ်ငန်း(ရုံးချုပ်) | အဖွဲ့ဝင် |
| (၆) | ဦးသိန်းဝင်း | ညွှန်ကြားရေးမှူး(စီမံခန့်ခွဲရေး)<br>၂၁၀၀၀၀-၂၀၀၀-၂၂၀၀၀၀<br>လုပ်ငန်း(ရုံးချုပ်) | အတွင်းရေးမှူး |

ဦးဆောင်ညွှန်ကြားရေးမှူး( ကိုယ်စား )
(သိန်းဝင်း၊ညွှန်ကြားရေးမှူး)

စာအမှတ် ၊ ၁၅၀၆(၄)၂၀၁၃/ရေး-၁/၁၄/ ၄၉၃(က)
ရက်စွဲ ၊ ၂၀၁၃ခုနှစ်၊ ဩဂုတ်လ ၁၅ ရက်

သံထည်၊ သစ်သားထည်လုပ်ငန်းစက်ရုံခွဲ (ကျိုက်ဝိုင်း)ရှိ ငှားရမ်းမည့်စက်ပစ္စည်းစာရင်း

| စဉ် | ပစ္စည်းအမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | စက်အမှတ်အသား | မှတ်ချက် |
|---|---|---|---|---|---|
| 1 | 26" Rip Saw Bench | No | 1 | M-24 | ကျိုက်ဝိုင်း |
| 2 | 26" Rip Saw Bench | No | 1 | M-25 | ကျိုက်ဝိုင်း |
| 3 | Planer Knife and Moulding Cutter Grinding Machine | No | 1 | M-36 | ကျိုက်ဝိုင်း |
| 4 | Dust Collector | No | 1 | M-37 | ကျိုက်ဝိုင်း |
| 5 | Sesoning KILN(KILN Dryer) Timber Dryer | No | 3 | M-40,41,43 | ကျိုက်ဝိုင်း |
| 6 | Auto Planer Machine | No | 2 | M-1,2 | ဘုရင့်နောင် |
| 7 | Finger Joint M/C | No | 3 | M-4,5 | ဘုရင့်နောင် |
| 8 | Automatic Moulder M/C | No | 1 | M-7 | ဘုရင့်နောင် |
| 9 | Double ended Tenoning M/C | No | 1 | M-8 | ဘုရင့်နောင် |
| 10 | Slitting Saw M/C | No | 1 | M-9 | ဘုရင့်နောင် |
| 11 | Surface Planer M/C | No | 1 | M-24 | ဘုရင့်နောင် |
| 12 | Single End Tenoning M/C | No | 1 | M-12 | ဘုရင့်နောင် |
| 13 | Radial Arm Saw M/C | No | 1 | D-28 | ကျိုက်ဝိုင်း |
| 14 | Band Saw M/C | No | 2 | M-27,29 | ဘုရင့်နောင် |
| 15 | Spindle Moulder M/C | No | 2 | M-30,31 | ဘုရင့်နောင် |
| 16 | Panel Saw M/C | No | 1 | M-20 | ဘုရင့်နောင် |
| 17 | Tool Sharperner M/C | No | 1 | M-35 | ဘုရင့်နောင် |
| 18 | Seneding M/C | No | 1 | M-37 | ဘုရင့်နောင် |
| 19 | 3"Circular Saw | No | 1 | C-2 | ဘုရင့်နောင် |
| 20 | 48" Circular Saw | No | 1 | C-3 | ဘုရင့်နောင် |
| 21 | 3.5" Band Saw | No | 1 | C-7 | ဘုရင့်နောင် |

| စဉ် | ပစ္စည်းအမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | စက်အမှတ်အသား | မှတ်ချက် |
|---|---|---|---|---|---|
| 22 | Weiring Automatic Moulder M/( | No | 1 | M-10 | ဘုရင့်နောင် |
| 23 | Weiring Precision Device | No | 1 | R-4 | ဘုရင့်နောင် |
| 24 | Air Compressor | No | 1 | R-14 | ဘုရင့်နောင် |
| 25 | MVM Heavy Duty Automatic Grinder | No | 1 | D-31 | ဘုရင့်နောင် |
| 26 | Auto Planer (20") | No | 1 | D-23 | ကျိုက်ဝိုင်း |
| 27 | Jione (12") Thickness | No | 1 | D-24 | ကျိုက်ဝိုင်း |
| 28 | Planer Cutter | No | 1 | D-27 | ကျိုက်ဝိုင်း |

ကန့်သတ်

သံထည်၊ သစ်သားထည်လုပ်ငန်းစက်ရုံခွဲ(ကျိုက်ဝိုင်း)၏ ဝန်ထမ်းအင်အားစာရင်း

| စဥ် | အမည် | ရာထူး | လစာနှုန်း | မှတ်ချက် |
|---|---|---|---|---|
| ၁။ | ဦးစိုးပိုင် | မန်နေဂျာ | ၁၄၀၀၀ဝိ-၂၀ဝိ-၁၅၀၀၀ဝိ | ပံ့ပိုးငွေ(၃၀၀၀၀) ကျပ်မပါသေးပါ။ |
| ၂။ | ဒေါ်ခင်စန်းဦး | လက်ထောက်မန်နေဂျာ | ၁၂၀၀၀ဝိ-၂၀ဝိ-၁၃၀၀၀ဝိ | |
| ၃။ | ဒေါ်မွန်မြတ်ဖြိုး | အလုပ်ရုံစုမှူး | ၈၅၀၀ဝိ-၁၀၀ဝိ-၉၀၀၀ဝိ | |
| ၄။ | ဒေါ်နေနီမင်းသန့် | ။ | ။ | |
| ၅။ | ဒေါ်နော်ခူဆေး | ။ | ။ | |
| ၆။ | ဒေါ်အေးအေးဝင်း | ရုံးအုပ် | ။ | |
| ၇။ | ဒေါ်ဌေးဌေးဝင်း | ထုတ်ကျွမ်း(၃) | ၇၃၀၀ဝိ-၁၀၀ဝိ-၇၈၀၀ဝိ | |
| ၈။ | ဒေါ်စန်းစန်းအေး | ။ | ။ | |
| ၉။ | ဒေါ်သီတာမိုး | ။ | ။ | |
| ၁၀။ | ဒေါ်သန်းမော် | ထုတ်ကျွမ်း(၄) | ၆၇၀၀ဝိ-၁၀၀ဝိ-၇၂၀၀ဝိ | |
| ၁၁။ | ဒေါ်မြသိဂီ | ထုတ်ကျွမ်း(၅) | ၆၁၀၀ဝိ-၁၀၀ဝိ-၆၆၀၀ဝိ | |
| ၁၂။ | ဒေါ်နွယ်နွယ်ဝင်းအောင် | ။ | ။ | |

နောက်ဆက်တွဲ(ဂ)

သံထည်လုပ်ငန်းစက်ရုံ(ကျိုက်ဝိုင်း)၏ မော်တော်ယာဉ်စာရင်း

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | မှတ်ချက် |
|---|---|---|---|---|
| ၁ | မာဇဒါကျစ်<br>၆ခ - ၉၇၂၄ | စီး | ၁ | |

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

# စက်မှုဝန်ကြီးဌာန

## စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

နှင့်

## Mother Trading Co.,Ltd

တို့

ချုပ်ဆိုသော

## သံထည်၊ သစ်သားထည်လုပ် ငန်းစက်ရုံခွဲ(ကျိုက်ဝိုင်း)အား ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ် သက်တမ်းတိုးမြှင့်လုပ်ကိုင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ (  )ရက်

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

နှင့်

**Mother Trading Co.,Ltd** တို့ချုပ်ဆိုထားသော

**သံထည်၊ သစ်သားထည်လုပ်ငန်းစက်ရုံခွဲ(ကျိုက်ဝိုင်း)အား ငှားရမ်းသည့်**

**သဘောတူစာချုပ်အပေါ် ပြင်ဆင်ချက်သဘောတူစာချုပ်**




7 JUL 2014




ရက်စွဲ၊ ၂၀၁၄-ခုနှစ်၊ ဇူလိုင်လ (          )ရက်

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

# စက်မှုဝန်ကြီးဌာန

# စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

# နှင့်

# Mother Trading Co.,Ltd တို့ ချုပ်ဆိုထားသော

# သံထည်၊ သစ်သားထည်လုပ်ငန်းစက်ရုံခွဲ(ကျိုက်ဝိုင်း)အား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ်

# ပြင်ဆင်ချက်သဘောတူစာချုပ်

ဤ ပြင်ဆင်ချက် သဘောတူစာချုပ်ကို ၂၀၁၄ ခုနှစ် လ ( )ရက်နေ့တွင် နေပြည်တော်ရှိ ဦးရည်မွန် ၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော စက္ကူနှင့်အိမ်သုံးပစ္စည်း လုပ်ငန်း( နောင်တွင် "အငှားချထားသူ" ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) က တစ်ဖက်နှင့် ဦးအောင်မြတ် အမျိုးသားမှတ်ပုံတင်အမှတ်၊ ၁၂/ဥကတ(နိုင်)၀၂၃၀၃၉ ကိုယ်စားပြုသော Mother Trading Co.,Ltd (၁၅)လမ်း၊ အမှတ်(၅)၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး(နောင်တွင် အငှားချထားခြင်းခံရသူ ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌၎င်းအားဆက်ခံသူများ တရားဝင် ကိုယ်စားလှယ်များ ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။ ) က အခြားတစ်ဖက် တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦးသဘောတူစာချုပ်ချုပ်ဆိုကြပါသည်-

(က) အမှတ်(၂၃)၊ ကျိုက်ဝိုင်းဘုရားလမ်း၊ အမှတ်(၃)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ သံထည်၊ သစ်သားထည်လုပ်ငန်းစက်ရုံခွဲ(ကျိုက်ဝိုင်း)၏ မြေ(၂.၄၀၂) ဧကနှင့် စက်ရုံ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံး ပရိဘောဂ၊ မော်တော်ယာဥ်များနှင့် အခြားပစ္စည်းများကို (၁၀)နှစ်သက်တမ်းငှားရမ်း၍ သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လှျာထိုး၊ ဘီတင် စသည့်လုပ်ငန်း များ ဆောင်ရွက်ရန် သဘောတူစာချုပ်ကို ၂၀၁၃ ခုနှစ် နိုဝင်ဘာလ (၁၅)ရက်နေ့တွင် နှစ်ဦးသဘောတူစာချုပ် (နောင်တွင် မူလစာချုပ် ဟု ခေါ်ဆိုမည်ဖြစ်ပါသည်။) ချုပ်ဆို၍ လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။

(ခ) ယင်းသို့ လုပ်ငန်းဆောင်ရွက်ရာတွင် မူလစာချုပ်၏ သက်တမ်းကို (၁.၇.၂၀၁၂) မှ (၃၀.၆.၂၀၁၇)ထိ (၅)နှစ်နှင့် သက်တမ်းတိုးမြှင့်လိုပါက (၅)နှစ် တစ်ကြိမ်စီသာ သက်တမ်း တိုးမြှင့်ငှားရမ်းလိုကြောင်း ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို စာချုပ်ဝင်များအကြား ချုပ်ဆိုခြင်းဖြစ်ပါသည်။

(ဂ) အဆိုပါစာချုပ်ပြင်ဆင်ခြင်းနှင့်ပတ်သက်၍ လုပ်ငန်းမှသဘောတူခဲ့ပြီး စက်မှုဝန်ကြီးဌာန (၂၆.၃.၂၀၁၄)ရက်နေ့တွင် ကျင်းပသည့် ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေး ဆိုင်ရာကော်မတီအစည်းအဝေးအမှတ်စဥ်(၂၅/၂၀၁၃-၂၀၁၄)ဖြင့် ခွင့်ပြုပြီးဖြစ်ပါသည်။

ကန့်သတ်

ကန့်သတ်

၂

(ဃ) သက်တမ်းတိုးဆောင်ရွက်ခြင်းကို နိုင်ငံတော်သမ္မတရုံး၏ (၁၄.၅.၂၀၁၄) ရက်စွဲပါစာမှတ်၊ ၅၄(၂)/ရ/သမ္မတရုံး၏ခွင့်ပြုချက်အရမူလသက်တမ်း(၅)နှစ်အပါအဝင် (၂၀)နှစ်+(၅)နှစ်+(၅)နှစ်ဖြင့်သက်တမ်းတိုးမြှင့်ငှားရမ်းခွင့်အား(၅) နှစ်တစ်ကြိမ်စီသာသက်တမ်းတိုးဆောင်ရွက်ဖြစ်ပါသည်။

(င) သက်တမ်းတိုးမြှင့်ခြင်းနှင့်ပတ်သက်၍အစိုးရအဖွဲ့မှ ခွင့်ပြုသောမူလငှားရမ်းသက်တမ်း(၁၀)နှစ်အပါအဝင် (၂၀)နှစ်+(၅)နှစ်+(၅)နှစ် ဖြင့် ငှားရမ်းခွင့်တင်ပြခြင်းကို နိုင်ငံတော်သမ္မတရုံး၏(၁၄.၅.၂၀၁၄)ရက်စွဲပါ စာအမှတ်၊ ၅၄(၂)/ရ/သမ္မတရုံး၏ ခွင့်ပြုချက်အရမူလသက်တမ်း(၅)နှစ်အပါအဝင်(၂၀)နှစ်+(၅)နှစ်+(၅)နှစ်ဖြင့် သက်တမ်းတိုးမြှင့်ငှားရမ်းခွင့်အား (၅)နှစ်တစ်ကြိမ်စီသာ သက်တမ်းတိုးဆောင်ရွက်သွားရန် ခွင့်ပြုခဲ့ပါသည်။

သို့ပါ၍ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် မူလစာချုပ်ကိုပြင်ဆင်သည့် ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို အောက်ပါသဘောတူညီချက်များနှင့်အညီချုပ်ဆိုရခြင်းဖြစ်ပါသည် -

၁။ မူလစာချုပ် အပိုဒ်(၁)ခေါင်းစဉ်ပါ ရည်ရွယ်ချက်ခေါင်းစဥ်အား အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ရည်ရွယ်ချက်**

၁။ "အငှားချထားသူ" ပိုင်ဆိုင်သော အမှတ်(၂၃)၊ ကျိုက်ဝိုင်းဘုရားလမ်း၊ အမှတ်(၃) ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ သံထည်၊ သစ်သားထည်လုပ်ငန်း စက်ရုံခွဲ(ကျိုက်ဝိုင်း)၏ မြေ(၂.၄၀၂)ဧကနှင့် စက်ရုံ၊ အဆောက်အဦ၊ စက်ပစ္စည်း ကိရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံး ပရိဘောဂ၊ မော်တော်ယာဥ်များနှင့် အခြားပစ္စည်းများကို "အငှားချထားခြင်းခံရသူ" မှ သစ်အချောထည်၊ သစ်သားတံခါးအမျိုးမျိုး၊ ပါကေး၊ လျှာထိုး၊ ဘီတင် စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်ရည်ရွယ်၍ ဤစက်ရုံ ငှားရမ်းသည့် သဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်ပါသည်။

၂။ မူလစာချုပ်၏ ငှားရမ်းမည့်အချိန်ကာလ ခေါင်းစဥ်အောက်ရှိ အပိုဒ်(၄)အား ပယ်ဖျက်၍ အပိုဒ်(၄) နှင့် အပိုဒ်(၅)တို့အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**ငှားရမ်းမည့်အချိန်ကာလ**

၄။ ငှားရမ်းမည့်အချိန်ကာလမှာ (၁.၇.၂၀၁၂) ရက်နေ့မှစ၍ (၅)နှစ် ဖြစ်ပါသည်။

ကန့်သတ်

<u>ကန့်သတ်</u>

၃

၅။ သို့ဖြစ်ပါ၍ စာချုပ်သက်တမ်း(၅)နှစ်သည် ၂၀၁၂ ခုနှစ် ဇူလိုင် ၁ ရက်နေ့မှ ၂၀၁၇ ခုနှစ် ဇွန် လ ၃၀ ရက်နေ့အထိ ဖြစ်ပါသည်။ ငှားရမ်းသက်တမ်း ထပ်မံတိုးလိုပါက (၅)နှစ်လျှင်တစ်ကြိမ် သက်တမ်းတိုးနိုင်ပါသည်။ သက်တမ်းတိုး ဆောင်ရွက်ခြင်းကို စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးသို့ အတည်ပြုချက် တင်ပြဆောင်ရွက်ရမည်ဖြစ်ပါသည်။

၃။ မူလစာချုပ်၏ စာချုပ်သက်တမ်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၅)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**စာချုပ်သက်တမ်း**

၅။ ငှားရမ်းမည့် စာချုပ်သက်တမ်းမှာ (၁-၇-၂၀၁၂)ရက်မှစ၍ (၃၀-၆-၂၀၁၇)ရက်နေ့အထိ (၅)နှစ်ဖြစ်ပါသည်။ စာချုပ်သက်တမ်းတိုးလိုပါက (၅)နှစ်လျှင်တစ်ကြိမ် သက်တမ်းတိုးနိုင်ပါသည်။

၄။ မူလစာချုပ်၏ လွှဲပြောင်းပေးမည့် ဝန်ထမ်းများ ခေါင်းစဉ်အား ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းများဟု အစားထိုးပြင်ဆင်ရမည်။ မူလခေါင်းစဉ်အောက်ရှိ အပိုဒ်(၇)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်း**

၇။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းအင်အားမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| စဉ် | လစာနှုန်း | လူဦးရေ |
|---|---|---|
| (က) | ၁၆၀၀၀၀-၂၀၀၀-၁၇၀၀၀၀ | ၁ ဦး |
| (ခ) | ၁၄၀၀၀၀-၂၀၀၀-၁၅၀၀၀၀ | ၁ ဦး |
| (ဂ) | ၁၀၅၀၀၀-၁၀၀၀-၁၁၀၀၀၀ | ၃ ဦး |
| (ဃ) | ၉၉၀၀၀-၁၀၀၀-၁၀၄၀၀၀ | - ဦး |
| (င) | ၉၃၀၀၀-၁၀၀၀-၉၈၀၀၀ | ၃ ဦး |
| (စ) | ၈၇၀၀၀-၁၀၀၀-၉၂၀၀၀ | ၁ ဦး |
| (ဆ) | ၈၁၀၀၀-၁၀၀၀-၈၆၀၀၀ | ၂ ဦး |
| စုစုပေါင်း | | ၁၁ ဦး |

<u>ကန့်သတ်</u>

ကန့်သတ်

၄

၅။ မူလစာချုပ်ပါ ဝန်ထမ်းရေးရာကိစ္စရပ်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၈)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ဝန်ထမ်းရေးရာကိစ္စရပ်များ**

၈။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းများနှင့် ပတ်သက်၍ "အငှားချထားခြင်းခံရသူ"မှ အောက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၆။ မူလစာချုပ်ပါ ဝန်ထမ်းရေးရာကိစ္စရပ်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၈)၊ အပိုဒ်ခွဲ (က)နှင့် (ဏ) အားပယ်ဖျက်၍ အပိုဒ်(၈) အပိုဒ်ခွဲ(က)နှင့်(ဏ)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၈(က)။ စက်ရုံရှိ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းများ၏ ဝန်ထမ်းလစာများကို နိုင်ငံတော်က သတ်မှတ်ထားသည့် လ၏ နောက်ဆုံးရက် (သို့မဟုတ်)ပိတ်ရက်ဖြစ်ပါက ပိတ်ရက်မတိုင်မီရက်တွင် လစာထုတ်ပေးရမည်။

၈(ဏ)။ စက်ရုံဝန်ထမ်းအား အငှားချထားသည့်စက်ရုံနှင့် ပတ်သက်သည့်လုပ်ငန်းတာဝန်ကိုသာ ပေးအပ်ရမည်။ အကယ်၍ ဤစက်ရုံ၏ ပြင်ပလုပ်ငန်းနေရာများသို့ ပြောင်းရွှေ့ခြင်းကို "အငှားချထားသူ"၏ သဘောတူညီမှုဖြင့်ဆောင်ရွက်ရမည်။

၇။ မူလစာချုပ်၏ ငှားရမ်းခနှုန်းထား ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၀)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၁၀။ နောင်လာမည့်နှစ်များတွင် ငှားရမ်းခအား (၂)နှစ်တစ်ကြိမ် ပြန်လည်သုံးသပ်၍ ငှားရမ်းခတန်ဖိုး၏ (၂%) မှ (၅%)အတွင်း နှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်။

၈။ မူလစာချုပ်၏ ငှားရမ်းခပေးချေခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၁)၊ အပိုဒ်(၁၂)တို့အား ပယ်ဖျက်၍ ငှားရမ်းခပေးသွင်းခြင်းခေါင်းစဉ် အပိုဒ်(၁၁)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ငှားရမ်းခပေးသွင်းခြင်း**

၁၁။ ယခုစာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၃)လအတွက် ငှားရမ်းခ ကျသင့်ငွေကို (၃)လလျှင်တစ်ကြိမ် ပထမလ၏ (၁၅)ရက်အတွင်းပေးသွင်းရမည်။

၉။ မူလစာချုပ်တွင် နောက်ကျကြေးပေးသွင်းခြင်း ခေါင်းစဉ်အား အပိုဒ်(၁၂)အဖြစ် တဖက်ပါစာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည် -

ကန့်သတ်

ကန့်သတ်

၅

**နောက်ကျကြေးပေးသွင်းခြင်း**

၁၂။ အငှားချထားခြင်းခံရသူသည် ယခုစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ပထမလ၏ (၁၅)ရက်အတွင်း ပေးသွင်းရမည့် (၃)လအတွက် ငှားရမ်းခအား ပျက်ကွက်ပါက နောက်ကျကြေးအဖြစ် တစ်လနောက်ကျတိုင်း (၃)လအတွက် ပေးသွင်းရမည့် ငွေ၏ (၀.၅%) (သုညဒသမငါးရာခိုင်နှုန်း)ကို ဒဏ်ကြေးအဖြစ် သတ်မှတ်၍ နောက်ကျသည့်ရက်များအတွက် တွက်ချက်ပေးဆောင်ရမည်။

၁၀။ မူလစာချုပ်၏ "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ခေါင်းစဥ်အောက်ရှိ အပိုဒ်(၁၃)နှင့် အပိုဒ်ခွဲများအား ပယ်ဖျက်၍ အပိုဒ်(၁၃)နှင့် အပိုဒ်ခွဲများအဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၃။ အငှားချထားခြင်းခံရသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးကိရိယာများ၊ အခြားပရိဘောဂများ၊ ၊ မော်တော်ယာဥ်များနှင့်ပတ်သက်၍ နောက်ဆက်တွဲပါအတိုင်း အသုံးပြုနိုင်သည်။

(ခ) အကယ်၍ အသုံးပြုလိုခြင်းမရှိသော စက်ပစ္စည်းကိရိယာများ ရုံးသုံးပစ္စည်းများနှင့်အခြား ပရိဘောဂများရှိပါက အငှားချထားသူသို့ ညှိနှိုင်း၍ စနစ်တကျလွှဲပြောင်းပေးနိုင်သည်။

(ဂ) "အငှားချထားခြင်းခံရသူ"၏ လုပ်ငန်းနှင့်မကိုက်ညီသော မူလ အဆောက်အဦကို ပြုပြင်ရန် (သို့) ဖြိုဖျက်ရန်အလို့ငှာ "အငှားချထားသူ" ၏ သဘောတူခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(ဃ) "အငှားချထားခြင်းခံရသူ"သည် လုပ်ငန်းတိုးချဲ့ခြင်း၊ ပြင်ဆင်ခြင်း၊ မွမ်းမံခြင်း၊ အဆောက်အဦ ဆောက်လုပ်ခြင်းများကို "အငှားချထားသူ" ၏ သဘောတူခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(င) စက်ရုံရှိ စာချုပ်ပါငှားရမ်းသည့် စက်ပစ္စည်း၊ အဆောက်အဦများ နှင့် ပတ်သက်၍ ပြုပြင်ထိန်းသိမ်းမှုများကို **"အငှားချထားခြင်းခံရသူ"** မှ တာဝန်ယူဆောင် ရွက်ရမည်။

ကန့်သတ်

ကန့်သတ်

၆

(စ) "အငှားချထားခြင်းခံရသူ"သည်ငှားရမ်းခငွေများကို ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်နှင့်အညီ သတ်မှတ်ထားသည့် အချိန်အတွင်း "အငှားချထားသူ"ထံ မှန်မှန်ကန်ကန် ပေးသွင်းရမည်။

(ဆ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံနှင့် ပတ်သက်သည့်ဌာနအလိုက် စာရွက်စာတမ်းများ ၊ စာရင်းများကို စာရင်းစစ် အစစ်ဆေးခံနိုင်ရန်နှင့် အခြားလိုအပ်သည်များ ဆောင်ရွက်နိုင်ရန် အငှားချထားသူအား စနစ်တကျ ထိန်းသိမ်းဆောင်ရွက်ခွင့်ပြုရမည်ဖြစ်ပြီး လိုအပ်သည်များ ကူညီဆောင်ရွက်ပေးရမည်။

(ဇ) အငှားချထားသည့်ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားရမည်။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ စည်းမျဉ်းများနှင့်အညီ သုံးစွဲပြီးမီးဘေးကာကွယ်ရေး အစီအမံများ လုံလောက်စွာ ထားရှိရမည်။

(ဈ) အငှားချထားသည့် ပစ္စည်းများကို တစ်ဆင့်ငှားရမ်းခြင်း ၊ ပေါင်နှံခြင်း ၊ ရောင်းချခြင်း (သို့မဟုတ်) တစ်နည်းနည်းဖြင့်လွှဲပြောင်းပေးခြင်း စသည်တို့ လုံးဝမပြုလုပ်ရ။

(ည) "အငှားချထားခြင်းခံရသူ"သည် အငှားချထားသည့်ကာလအတွင်း အငှားချထားသူမှလည်းကောင်း၊ အငှားချထားသူက နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးထားသော ကိုယ်စားလှယ်များကိုလည်းကောင်း လိုအပ်ပါက ဝင်ရောက်လေ့လာခြင်း စစ်ဆေးခြင်းများ ဆောင်ရွက်ခြင်း ရှိပါက ခွင့်ပြုရမည်။

(ဋ) အငှားချထားသည့် ပစ္စည်းများနှင့် ပတ်သက်၍ မြေခွန်မှအပ သက်ဆိုင်သည့် အခွန်အခ အမျိုးမျိုးကို ကျခံပေးဆောင်ရမည်။

(ဌ) အငှားချထားသည့် ပစ္စည်းများနှင့် စပ်လျဉ်း၍ အလုံးစုံသောအာမခံကို မြန်မာ့အာမခံလုပ်ငန်း ဥပဒေပါပြဋ္ဌာန်းချက်နှင့် အညီမပျက်မကွက် ထားရှိဆောင်ရွက် ရမည်။

(ဍ) ဤသဘောတူစာချုပ် သက်တမ်းကုန်သည့်အခါ အငှားချထားသည့်စက်ရုံကို မူလငှားရမ်းစဉ်က အခြေအနေထက်မလျော့ဘဲ ထိန်းသိမ်းထားရမည်။ သို့ရာတွင် အကျိုးအကြောင်း ဆီလျော်မှုရှိသော ပျက်စီးမှုများ အတွက်ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

ကန့်သတ်

ကန့်သတ်

၇

( ပ ) အငှားချထားသည့်စက်ရုံတွင်တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများ အားလုံးသည်ငှားရမ်းခြင်း စာချုပ်သက်တမ်း ကုန်ဆုံးသည့်အချိန်တွင် အခကြေးငွေပေးရန်မလိုဘဲ"**အငှားချထားသူ**"ပိုင်ပစ္စည်းများ အလိုအလျောက် ဖြစ်လာရမည်။ အကယ်၍ မိမိ တပ်ဆင်ထားသောပစ္စည်းအား အငှားချထားသည့်အဆောက်အဦ လွှဲပြောင်းချိန်တွင် ပြန်လည်ဖြုတ်ယူသွားလိုပါက ယင်းပစ္စည်းများအား တပ်ဆင်ခြင်းမပြုမီ ကတည်းက နှစ်ဖက်ညှိနှိုင်းအတည်ပြုချက်ရယူထားရမည်။ သို့ရာတွင် လေအေးပေးစက်များ၊ လျှပ်စစ်ထုတ်စက်များနှင့် အခြားရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများကိုမူ ထားခဲ့ရန်မလိုဘဲ ဖြုတ်ယူ သွားနိုင်သည်။

(ဖ) စက်ရုံမှ ထုတ်ကုန်များအား ပြင်ပ ဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်းဖြင့် လွတ်လပ်စွာ ရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူ ခွင့်ရှိသည်။

(ဗ) "**အငှားချထားခြင်းခံရသူ**" သည် တရားဥပဒေနှင့်မညီညွတ်သော လုပ်ငန်းများကို လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုရ။

(ဘ) "**အငှားချထားခြင်းခံရသူ**" သည် မူလလုပ်ငန်းအပြင် နိုင်ငံတော်မှ ခွင့်ပြုထားသော အခြား လုပ်ငန်းများအား လုပ်ကိုင်ဆောင်ရွက်လိုပါက "အငှားချထားသူ"၏ သဘောတူခွင့်ပြုချက်ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(မ ) "**အငှားချထားခြင်းခံရသူ**"မှ ဆောင်ရွက်မည့်လုပ်ငန်းအတွက် သက်ဆိုင်ရာဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများထားရှိပြီး "**အငှားချထားသူ**" ထံ မိတ္တူတစ်စုံ အပ်နှံထားရမည်။

(ယ ) အငှားချထားသည့်ပစ္စည်းရပ်များတွင် "**အငှားချထားသူ**"၏ (နေ့စား၊ လခစား) ဝန်ထမ်းများအနက် ၎င်းတို့၏ ဆန္ဒအလျောက် "**အငှားချထားခြင်းခံရသူ**" (ကုမ္ပဏီ)သို့ လိုက်ပါမည့် ဝန်ထမ်းများကို "**အငှားချထားခြင်းခံရသူ**"(ကုမ္ပဏီ)သည် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် စည်းမျဉ်းဥပဒေနှင့်အညီ ကုမ္ပဏီ၏ စီမံခန့်ခွဲမှု (ကုမ္ပဏီဝန်ထမ်းအဖြစ်) ဖြင့် လွှဲပြောင်း လက်ခံဆောင်ရွက်ရမည်။

(ရ ) "**အငှားချထားခြင်းခံရသူ**"သည် လုပ်ငန်းများကို တိုးချဲ့ရာတွင် ပြည်ပရင်းနှီးမြှုပ်နှံမှုများနှင့် အကျိုးတူဖက်စပ်လုပ်ကိုင်ရန် လိုအပ်ပါက "**အငှားချထားသူ**" ၏ သဘောတူခွင့်ပြုချက်ရရှိမှသာ ဆောင်ရွက်နိုင်သည်။

ကန့်သတ်

<u>ကန့်သတ်</u>

၈

(ပ) **"အငှားချထားခြင်းခံရသူ"** သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေသတ် မှတ်ချက်များကိုလိုက်နာဆောင်ရွက်ရမည်။

(ဖ) **"အငှားချထားခြင်းခံရသူ"** သည် ပတ်ဝန်းကျင်အနှောက်အယှက် အန္တရာယ်ဖြစ်စေမည့် အကြောင်းအချက်များကို ကြိုတင်ကာကွယ်တားဆီး၍ ဖြစ်ပွားပါက ပြီးဆုံးသည့်တိုင်အောင် တာဝန်ယူဖြေရှင်းဆောင်ရွက်ရမည်။

(ဗ) နိုင်ငံတော်မှသတ်မှတ်ထားသော သက်ဆိုင်ရာဥပဒေများ၊ ဒေသဆိုင်ရာ လူမှုဘဝကိစ္စရပ် များနှင့်ပတ်သက်၍ အကြောင်းတစ်စုံတစ်ရာ ပေါ်ပေါက်ပါက **"အငှားချထားခြင်းခံရသူ"** မှ တာဝန်ယူ ဖြေရှင်းရမည်။

(ဘ) "အငှားချထားခြင်းခံရသူ"သည် မြန်မာနိုင်ငံတံဆိပ်ခေါင်း အက်ဥပဒေပုဒ်မ ၂၉(ဂ) အရ ကျသင့်သည့်တံဆိပ်ခေါင်း ခွန်ထမ်းဆောင်ရမည်။

(မ) "အငှားချထားသူ"၏ ခွင့်ပြုချက်ဖြင့် လျှပ်စစ်သွယ်တန်းခြင်း၊ အဝီစိတွင်းတူးခြင်း၊ ရေပိုက်သွယ်တန်းခြင်း၊တယ်လီဖုန်းဆက်သွယ်ခြင်းကို မိမိစရိတ်ဖြင့် ဆောင်ရွက်နိုင်သည်။ စာချုပ်သက်တမ်းကုန်ဆုံးပါက (သို့မဟုတ်) အငှားစာချုပ် ရပ်စဲခြင်းဖြစ်ပါက အဆောက်အဦခိုင်ခန့်မှုကို မထိခိုက်စေဘဲ အလွယ်တကူ ဖြုတ်ယူနိုင်သည့်အဆိုပါ ပစ္စည်းများကို ပြန်လည်ဖြုတ်ယူခြင်း၊ ဖြုတ်တောက်ခြင်းများကို "အငှားချထားသူ"ထံ ခွင့်ပြုချက်ရယူ၍ ဆောင်ရွက်ခွင့်ရှိသည်။

(ယ) အငှားချထားသည့် စက်ရုံတွင် တပ်ဆင်မှုများ ၊ ပုံစံပြောင်းလဲမှုများ ၊ စက်ပစ္စည်းအသစ်ဖြည့်စွက်တပ်ဆင်မှုများနှင့် တိုးချဲ့ဆောက်လုပ်မှုများအား စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း(ရုံးချုပ်)သို့ ခွင့်ပြုချက်တောင်းခံ၍ ဆောင်ရွက်သွားနိုင်ပြီး စက်ရုံပြန်လည် လွှဲပြောင်းပေးချိန်တွင် တပ်ဆင်ထားသော စက်ပစ္စည်းများနှင့် တိုးချဲ့အဆောက်အဦများ အား နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ မူလစာချုပ်ပါ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၄)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၁၄။ **"အငှားချထားခြင်းခံရသူ"**သည် ဤသဘောတူစာချုပ်ပါငှားရမ်းခြင်းကာလကုန်ဆုံးသည့်အခါ ယင်းသို့ကုန်ဆုံးသည့်နေ့မှ(၃၀)ရက်အတွင်း အငှားချထားသည့် စက်ရုံမြေ၊ အဆောက်အဦနှင့် စက်ကိရိယာများကို **"အငှားချထားသူ"** သို့ အဖိုးစားနားမပါဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။သို့ရာတွင် သတ်မှတ်ကာလအတွင်း လွှဲပြောင်းခြင်းကိစ္စရပ်အား မပြီးစီးပါကခိုင်လုံသော အကြောင်းပြချက် ဖော်ပြ၍စာဖြင့် (၇)ရက်ကြိုတင် တင်ပြတောင်းခံညှိနှိုင်းဆောင်ရွက်ရမည်။

<u>ကန့်သတ်</u>

ကန့်သတ်

၉

၂။ မူလစာချုပ်ပါ "အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ခေါင်းစဥ်အောက်ရှိ အပိုဒ်(၁၅) နှင့် အပိုဒ်ခွဲများအား ပယ်ဖျက်၍ အပိုဒ်(၁၅)နှင့်အပိုဒ်ခွဲများအဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုး ဖြည့်ဆင်ရမည်-

**အငှားချထားသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၅။ အငှားချထားသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "**အငှားချထားခြင်းခံရသူ**"အား နောက်ဆက်တွဲများပါ အငှားချထားသည့်ပစ္စည်းများကို အသုံးပြုခွင့်ပေးရ မည်။

(ခ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ် ၊ ရေ၊ တယ်လီဖုန်းတို့ကို "**အငှားချထားခြင်း ခံရသူ**" အား ဆက်လက်အသုံးပြုခွင့်ပြုရမည်။

(ဂ) အငှားချထားသည့်စက်ရုံ၏အခြေအနေများကိုနည်းလမ်းတကျလုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များ လိုအပ်ပါကစေလွှတ်၍ စစ်ဆေးပိုင်ခွင့်ရှိသည်။

(ဃ) စက်ရုံအတွက်ကျသင့်သည့် မြေခွန်ကို ပေးဆောင်ရမည်။

(င) "အငှားချထားခြင်းခံရသူ"မှ အသုံးပြုလိုခြင်း မရှိကြောင်း ညှိနှိုင်း တင်ပြလာသည့် စက် ပစ္စည်းကိရိယာများကို စက်မှုဝန်ကြီးဌာနသို့တင်ပြ၍ လိုအပ်သလိုစီမံခန့်ခွဲခွင့်ရှိသည်။

(စ) "အငှားချထားခြင်းခံရသူ" ၏ လုပ်ငန်းနှင့်မကိုက်ညီကြောင်း ညှိနှိုင်းတင်ပြလာသည့် မူလအဆောက်အဦကို ရှင်းလင်းရန် စက်မှုဝန်ကြီးဌာနသို့တင်ပြ၍ စီမံဆောင်ရွက်ခွင့် ရှိသည်။

(ဆ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံနှင့် ပတ်သက်သည့်ဌာနအလိုက် စာရွက် စာတမ်းများ၊ စာရင်းများကို စာရင်းစစ် အစစ်ဆေးခံနိုင်ရန်နှင့် အခြားလိုအပ်သည်များ ဆောင်ရွက်နိုင်ရန် "အငှားချထားခြင်းခံရသူ"နှင့်ညှိနှိုင်း၍ စနစ်တကျ ထိန်းသိမ်းထား ရှိရမည်။

(ဇ) စက်ရုံရှိ (နေ့စား/လခစား)ဝန်ထမ်းများအနက် "အငှားချထားခြင်းခံရသူ" (ကုမ္ပဏီ)သို့ လိုက်မည့် ဝန်ထမ်းများကို အထူးပင်စင်ခံစားခွင့်ပြုကာ ကုမ္ပဏီဝန်ထမ်းအဖြစ် အပြီး အပြတ် လွှဲပြောင်းခွင့်ရှိသည်။

(ဈ) အငှားချထားသည့် စက်ရုံဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်မှုနှင့် စပ်လျဥ်း၍ "အငှား ချထားခြင်းခံရသူ"၏ အခက်အခဲများကို သက်ဆိုင်ရာဌာနများသို့ "အငှားချထားခြင်း ခံရသူ" တို့နှင့် ညှိနှိုင်း၍တတ်နိုင်သမျှ ကူညီဆောင်ရွက်ပေးရမည်။

(ည) "အငှားချထားသူ"သည် နိုင်ငံတော်၏မူဝါဒနှင့်အညီ ငှားရမ်းသည့် သဘောတူစာချုပ် ကို ပြင်ဆင်ချုပ်ဆိုခွင့်ရှိသည်။

ကန့်သတ်

D:\Tender\KyaikWine.docx

ကုန်သတ်

၁၀

၃။ မူလစာချုပ်တွင် ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်းခေါင်းစဉ် အပိုဒ်(၁၉)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၁၉။ **"အငှားချထားခြင်းခံရသူ"** အနေဖြင့် လုပ်ငန်းလုပ်ဆောင်မည့် နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများအား ကောင်းစွာ ကာကွယ်ထိန်းသိမ်းစောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု ၊ ရေထု နှင့် မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်း လုပ်ငန်းများကို ဆောင်ရွက်ရမည် ။ ရေများသန့်စင်နိုင်သော စက်များ တပ်ဆင် ပေးခြင်း ၊ လေထုညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့် အစိတ်အပိုင်းများကို လုံခြုံစွာ ထားရှိပေးခြင်းဖြင့် အခြားသော ပတ်ဝန်းကျင်ဘေးအန္တရာယ် ကင်းရှင်းရေးဆိုင်ရာ လိုအပ်သော အကာအကွယ် အစီအစဉ်များ ဆောင်ရွက်ရမည် ။

၁၄။ မူလစာချုပ်တွင် ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ ခေါင်းစဉ် အပိုဒ်(၂၆)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ**

၂၆။ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာ အစိုးရဌာန ၊အာဏာ ပိုင်အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်များ ၊ ခွင့်ပြုမိန့်များရရှိပြီးမှသာလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်ရန် သတ်မှတ်ပါသည်။

၁၅။ မူလစာချုပ်၏ စာချုပ်ပြင်ဆင်ခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၇)နှင့် အပိုဒ်(၂၈)တို့ကို ပယ်ဖျက်၍ အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည် -

**စာချုပ်ပြင်ဆင်ခြင်း**

၂၇။ ဤသဘောတူစာချုပ်ပါ စည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်းပြုလုပ်လိုပါက "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့၏ နှစ်ဦးနှစ်ဖက်တရားဝင်စာဖြင့် သဘောတူညီချက်နှင့် **စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး**သို့ တင်ပြ၍ အတည်ပြုချက် ရယူဆောင်ရွက်နိုင်သည်။

ကုန်သတ်

၂၈။ "အငှားချထားခြင်းခံရသူ"မှ စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရ တွက်ခြေကိုက်မှု မရှိခြင်း၊ အခြားသောအဆင်မပြေမှုများ ရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက်ပြန်လည်ညှိနှိုင်းဆွေးနွေးရန် (၃)လကြိုတင်အကြောင်းကြားရမည်။ သို့ရာတွင် ယင်းဆွေးနွေးသည့် အချိန်ကာလမှစ၍ နောင်ထပ်မံငှားရမ်းသူရရှိသည့်အချိန်ကာလအထိ လက်ရှိငှားရမ်းခွင့်ရရှိသူမှ စက်ရုံနှင့် ပတ်သက်သည့် စက်ရုံငှားရမ်းခ၊ ဝန်ထမ်းလစာနှင့်စရိတ်များ၊ ပင်စင်ထည့်ဝင်ကြေးများ ၊ အခြားစရိတ်များအားလုံးကို ကျခံဆောင်ရွက်ပေးရမည်။

၆။ မူလစာချုပ်တွင် အာမခံထားရှိခြင်း ခေါင်းစဥ် အပိုဒ်(၂၉)အဖြစ် အောက်ပါစာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည် -

**အာမခံထားရှိခြင်း**

၂၉။ အငှားချထားခြင်းခံရသူသည် တစ်နှစ်ငှားရမ်းခ၏ ၁၀%နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်း ဆောင်ရွက်မှုအာမခံ (Performance Bank Guarantee)အဖြစ် မြန်မာ့စီးပွားရေးဘဏ်(နေပြည်တော်) တွင်အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်းကို စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းတွင် သိမ်းဆည်းထားရှိရမည်။

၇။ မူလစာချုပ်တွင် စာချုပ်ပြန်လည်ညှိနှိုင်းခြင်း ခေါင်းစဥ် အပိုဒ်(၂၉)အား အပိုဒ်(၃၀)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**စာချုပ်ပြန်လည်ညှိနှိုင်းခြင်း**

၃၀။ စာချုပ်ပါစည်းကမ်းချက်များနှင့် အညီလုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ရာ တွင် လုပ်ငန်းလိုအပ်ချက်အရ သို့မဟုတ် ဤစာချုပ်တွင် မပါရှိသည့်ကိစ္စရပ်များ ပေါ်ပေါက်လာလျှင် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်ညှိနှိုင်းခွင့်ရှိစေရမည်။

၈။ မူလစာချုပ်၏ စာချုပ်ရပ်စဲခြင်း ခေါင်းစဥ်အောက်ရှိ အပိုဒ်(၃၀)အား အပိုဒ်(၃၁)ဟု ပြင်ဆင်ရမည်။ အဆိုပါ အပိုဒ်(၃၁)တွင် ပုဒ်မခွဲ(၆)အဖြစ် အောက်ပါအပိုဒ်ခွဲအား ထပ်မံ ဖြည့်စွက်ရမည် -

၃၁(၆)။ နိုင်ငံတော်၏ တည်ဆဲဥပဒေတစ်ရပ်ရပ်ကို "အငှားချထားခြင်းခံရသူ"မှ ဖောက်ဖျက်ကျူးလွန်ခြင်း၊

၉။ မူလစာချုပ်၏ ပျက်ကွက်ခြင်း ခေါင်းစဥ်အောက်ရှိ အပိုဒ်(၃၁)နှင့် အပိုဒ်(၃၂)အား အပိုဒ် ၃၂)နှင့် အပိုဒ်(၃၃)ဟု ပြင်ဆင်ရမည်။

၁၀။ မူလစာချုပ်တွင် အပိုဒ်(၃၄) (၃၅) (၃၆) (၃၇) (၃၈) (၃၉)အဖြစ် တဖက်ပါစာပိုဒ်များဖြင့် ထပ်မံ ဖြည့်စွက်ရမည် -

ကန့်သတ်

၁၂

၃၄။ ဤပြင်ဆင်ချက် သဘောတူစာချုပ်သည် ၂၀၁၄ ခုနှစ် လ ရက် နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၃၅။ ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါ စည်းကမ်းချက်များမှအပ မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များမှာ ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၃၆။ ဤပြင်ဆင်ချက် သဘောတူစာချုပ်တွင် ပါရှိသော နောက်ဆက်တွဲများသည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၃၇။ ဤစာချုပ်သည် နိုင်ငံတော်မူဝါဒအရ ပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ပြင်ဆင်ချုပ်ဆိုနိုင်သည်။

၃၈။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၃၉။ ဤပြင်ဆင်ချက် သဘောတူစာချုပ်အား ၂၀၁၄ ခုနှစ် လ ရက်နေ့တွင် "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့ အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် သဘောတူလက်မှတ်ရေးထိုးကြပါသည်။

| | |
|---|---|
| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
| ဦးရည်မွန် | ဦးအောင်မြတ် |
| ဦးဆောင်ညွှန်ကြားရေးမှူး | အုပ်ချုပ်မှုဒါရိုက်တာ၊ |
| စက်ကျူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း | Mother Trading CO.,LTD |

အသိသက်သေများ

| | |
|---|---|
| ဒေါက်တာစိုးနိုင် | ဦးမောင်မောင်ဝင်း |
| ညွှန်ကြားရေးမှူး | ၁၂/ကမရ(နိုင်)၀၂၈၇၁၉ |
| စီမံရေးဌာန | အမှတ်(၉၇)(I)၊ သံလွင်လမ်း |
| | ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |

ကန့်သတ်

D:\Tender\KyaikWine.docx

ကန့်သတ်

၁၃

ဦးအုပ်စိုးပိုင်
၆/မဟရ(နိုင်)၀၈၆၃၉၇
အမှတ်(၄၀၁)၊ တိုက်(၁)၊ ဇီဇ၀ါအိမ်ယာ၊
သံသုမာလမ်း၊ (၁၅)ရပ်ကွက်၊
တောင်ဥက္ကလာမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး

သန်းထွန်း
ညွှန်ကြားရေးမှူး
စုတ်လုပ်ရေးဌာန

ဒေါ်ခင်မြင့်သီ
ညွှန်ကြားရေးမှူး
ဘဏ္ဍာရေးဌာန

D:\Tender\KyaikWine.docx

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

# စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

ရုံးအမိန့်စာအမှတ်(ထွေ/၂၁၉-က/၂၀၁၃)

ရက်စွဲ၊ ၂၀၁၃ခုနှစ်၊ ဩဂုတ်လ ၁၅ ရက်

စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း(ရုံးချုပ်)မှ အောက်ဖော်ပြပါ ပုဂ္ဂိုလ်များပါဝင်သော စီမံခန့်ခွဲရေးအဖွဲ့ကို ၁၅.၈.၂၀၁၃ ရက်နေ့မှစ၍ ဖွဲ့စည်းလိုက်သည် -

| စဉ် | အမည် | ရာထူး/လစာနှုန်း/ဌာန | တာဝန် |
|---|---|---|---|
| (၁) | ဦးရည်မွန် | ဦးဆောင်ညွှန်ကြားရေးမှူး<br>၂၃၀၀၀၀-၂၀၀၀-၂၄၀၀၀၀<br>လုပ်ငန်း(ရုံးချုပ်) | ဥက္ကဋ္ဌ |
| (၂) | ဒေါက်တာစိုးနိုင် | ညွှန်ကြားရေးမှူး(ပစ္စည်းစီမံရေး)<br>၂၁၀၀၀၀-၂၀၀၀-၂၂၀၀၀၀<br>လုပ်ငန်း(ရုံးချုပ်) | အဖွဲ့ဝင် |
| (၃) | ဦးသန်းထွန်း | ညွှန်ကြားရေးမှူး(ထုတ်လုပ်မှုစီမံရေး)<br>၂၁၀၀၀၀-၂၀၀၀-၂၂၀၀၀၀<br>လုပ်ငန်း(ရုံးချုပ်) | အဖွဲ့ဝင် |
| (၄) | ဒေါ်ခင်မြင့်သီ | ညွှန်ကြားရေးမှူး(ဘဏ္ဍာရေး)<br>၂၁၀၀၀၀-၂၀၀၀-၂၂၀၀၀၀<br>လုပ်ငန်း(ရုံးချုပ်) | အဖွဲ့ဝင် |
| (၅) | ဦးဟန်တင် | ညွှန်ကြားရေးမှူး(ရောင်းချဖြန့်ဖြူးရေး)<br>၂၁၀၀၀၀-၂၀၀၀-၂၂၀၀၀၀<br>လုပ်ငန်း(ရုံးချုပ်) | အဖွဲ့ဝင် |
| (၆) | ဦးသိန်းဝင်း | ညွှန်ကြားရေးမှူး(စီမံခန့်ခွဲရေး)<br>၂၁၀၀၀၀-၂၀၀၀-၂၂၀၀၀၀<br>လုပ်ငန်း(ရုံးချုပ်) | အတွင်းရေးမှူး |

ဦးဆောင်ညွှန်ကြားရေးမှူး( ကိုယ်စား )

(သိန်းဝင်း၊ညွှန်ကြားရေးမှူး)

စာအမှတ် ၊ ၁၅၀၆(၄)၂၀၁၃/ရေး-၁/၁၄/ ၄၈၃(၈၇)

ရက်စွဲ ၊ ၂၀၁၃ခုနှစ်၊ ဩဂုတ်လ ၁၅ ရက်

D/Admin data/Order.doc

သံထည်သံပြားစက်ရုံ (ကျိုက်ဝိုင်း) တည်နေရာပြမြေပုံ



[illegible]

သံထည်၊ သစ်သားထည် [illegible] (ကျိုက်ဝိုင်း)

(၃၀. ၅. ၂၀၀၂)နေ့မှ [illegible] စာရင်း

ပစ္စည်းအမျိုးအမည် ပုံသေပိုင်ပစ္စည်း

ရက်စွဲ ၊ ၃၀. ၅. ၂၀[illegible]

| စဉ် | ပစ္စည်းအမျိုးအမည် | ရေတွက်ပုံ | စာရင်းပါ လက်ကျန် | မြေပေါ် လက်ကျန် | ပို (+) လို (-) | မှတ်ချက် |
|---|---|---|---|---|---|---|
| | သံထည်လုပ်ငန်းစက်ရုံ (ကျိုက်ဝိုင်း) | | | | | |
| | (က) စီတ်တဲ (၁၅' × ၁၃') | လုံး | ၄ | ၁ | - | |
| | (ခ) ရိပ်သာ (၂၀' × ၁၅') | လုံး | ၁ | ၁ | - | |
| | (ဂ) တာဝန်မှူးရုံး (၂၀' × ၂၀') | လုံး | ၁ | ၁ | - | |
| | (ဃ) သစ်ခွဲစက် (၄၂' × ၃၅') | လုံး | ၁ | ၁ | - | |
| | (င) သစ်သားထည်အလုပ်ရုံ (၁၅၁' × ၉၅') | လုံး | ၁ | ၁ | - | |
| | (စ) လူနေဖာိမ် (၂၀' × ၁၅') | လုံး | ၁ | ၁ | - | |
| | (ဆ) ကုန်ချောနှင့်ဂိုဒေါင် ၂ ထပ် (၉၅' × ၂၅') | လုံး | ၁ | ၅ | - | |
| | (ဇ) သစ်ပေါင်းဖို (A,B,C,D) (၉၂' × ၂၉') | လုံး | ၁ | ၁ | - | |
| | (ဈ) သစ်ကုန်ချောဂိုဒေါင် (၆၂' × ၃၆') | လုံး | ၁ | ၁ | - | |
| | (ည) သံထည်အလုပ်ရုံ (၁၀၀' × ၃၀') | လုံး | ၁ | ၁ | - | |
| | (ဋ) သံထည်ကုန်ချောဂိုဒေါင် (၄၇' × ၃၂') | လုံး | ၁ | ၁ | - | |
| | (ဌ) သံပြားအလုပ်ရုံ (၅၁' × ၃၀') | လုံး | ၁ | ၁ | - | |
| | (ဍ) သံပြားထည်ဂိုဒေါင် (၆၀' × ၃၀') | လုံး | ၁ | ၁ | - | |

အဖွဲ့ [illegible]ခင်းမေသော် [illegible] ဝင်
[illegible] ဒေါ်[illegible]မြင့် [illegible] ဒေါ်[illegible]လုံ့လုံ့ဝိုး

